

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

**ခွင့်ပြုမိန့်အမှတ်** ၁၅၄/၂၀၁၉ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၆ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၂၅ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးသန်းထွန်း

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်-၅၂/ခ၊ ရွှေတောင်ကြား(၂)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** တာချီလိတ်လေဆိပ်၊ ကော့သောင်းလေဆိပ်၊ ညောင်ဦးလေဆိပ်၊ ဟဲဟိုးလေဆိပ်၊ စစ်တွေလေဆိပ်၊ မြစ်ကြီးနားလေဆိပ်၊ မန္တလေး အပြည်ပြည်ဆိုင်ရာ လေဆိပ်နှင့် အမှတ်- ၃၁၊ ၃၂(စီ)၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ ရန်ကုန်တိုင်းဒေသကြီးရှိ ဆီသိုလှောင်ကန်များနှင့် ဆိပ်ခံတံတားနေရာ

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ၄၄,၀၇၈.၆၃ သန်း (အမေရိကန်ဒေါ်လာ ၁၂.၂၆၂ သန်း အပါအဝင် ကျပ်လေးသောင်းလေးထောင် ခုနစ်ဆယ့်ရှစ်သန်း ခြောက်သိန်းသုံးသောင်းခန့်)

(၁၁) **တည်ဆောက်မှု/ ပြင်ဆင်မှုကာလ** ၄ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း** ၃၀ နှစ်

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** ရွှေမြန်မာလေကြောင်းလိုင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက် (GOLDEN MYANMAR AIRLINES PUBLIC COMPANY LIMITED)

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ



Form (3)

P000069

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

**Permit No.** 154/2019 Dated 8 April 2019

**This Permit is issued by the Myanmar Investment Commission according to the section 25 (c) of the Myanmar Investment Law-**

(1) **Name of Investor** U THAN TUN

(2) **Citizenship** MYANMAR

(3) **Residence Address** NO. (52/KHA), GOLDEN VALLEY WARD (2), BAHAN TOWNSHIP, YANGON

(4) **Name and Address of Principal Organization** -

(5) **Place of Incorporation** -

(6) **Type of Business** IMPORTATION, STORAGE, DISTRIBUTION AND TRANSPORTAION OF JET FUEL

(7) **Place(s) of Investment Project** TACHILEIK AIRPORT, KAWTHAUNG AIRPORT, NYAUNG OO AIRPORT, HEHO AIRPORT, SITTWAY AIRPORT, MYITKYINA AIRPORT, MANDALAY INTERNATIONAL AIRPORT AND YANGON REGION, THANLYIN-KYAUKTAN AREA, NO.31/32(C), THILAWA OIL TANKS AND JETTY AREA

(8) **Amount of Foreign Capital** -

(9) **Period for Foreign Capital to be Brought in** -

(10) **Total Amount of Capital (Kyat)** 44,078.63 MILLION (INCLUDING US$ 12.262 MILLION)

(11) **Construction Period** 4 YEARS

(12) **Validity of Investment Permit** 30 YEARS

(13) **Form of Investment** WHOLLY MYANMAR OWNED

(14) **Name of Company Incorporated in Myanmar** GOLDEN MYANMAR AIRLINES PUBLIC COMPANY LIMITED

Thaung Tun

(Thaung Tun)
Chairman





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(စ)/ခ-၀၂၀/၂၀၁၉ (၂၂၉၈)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဧပြီလ ၈ ရက်

အကြောင်းအရာ။ **Golden Myanmar Airlines Public Company Limited ၏ လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်း ချက်။ Golden Myanmar Airlines Public Company Limited ၏ ၁၅-၂-၂၀၁၉ ရက်စွဲပါ တင်ပြစာ

၁။ Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ လေကြောင်းပို့ဆောင်ရေး ညွှန်ကြားမှုဦးစီးဌာနပိုင် တာချီလိတ်လေဆိပ်၊ ကော့သောင်းလေဆိပ်၊ ညောင်ဦးလေဆိပ်၊ ဟဲဟိုးလေဆိပ်၊ စစ်တွေလေဆိပ်၊ မြစ်ကြီးနားလေဆိပ်တို့ရှိ မြေနေရာများအား ငှားရမ်းခြင်းဖြင့်လည်းကောင်း၊ အမှတ်- ၃၁၊ ၃၂(စီ)၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ ရန်ကုန်တိုင်းဒေသကြီးရှိ ဆီသိုလှောင်ကန်များ၊ ဆိပ်ခံတံတားနေရာနှင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ လေကြောင်းပို့ဆောင်ရေး ညွှန်ကြားမှုဦးစီးဌာနပိုင် မန္တလေးအပြည်ပြည်ဆိုင်ရာလေဆိပ်၏ operator ဖြစ်သည့် MC-JALUX Airport Services Co., Ltd. ၏ နှစ်ရှည်ငှားရမ်း လုပ်ကိုင်ခွင့်ရ မြေနေရာများအား ထပ်ဆင့်ပြန်လည်ငှားရမ်းခြင်းဖြင့်လည်းကောင်း လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၉ ခုနှစ် ဧပြီလ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅/၂၀၁၉) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) အား လေယာဉ်ဆီ တင်သွင်း၊ သိုလှောင်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ ၁၅၄/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ Golden Myanmar Airlines Public Company Limited (ရွှေမြန်မာ လေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်းအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၈)၊ ပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အကောင်းဆုံး ရည်မှန်းချက်များအဖြစ်** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများ၊ သဲအိတ်များကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးခြင်းနှင့် မီးသတ်အရာရှိတစ်ဦး ခန့်အပ်ခြင်းတို့ကို ဆောင်ရွက်ရမည်။

(ဆ) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဇ) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဈ) Golden Myanmar Airlines Public Company Limited (ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Golden Myanmar Airlines Public Company Limited (ရွှေမြန်မာ လေကြောင်းလိုင်း အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် (သို့မဟုတ်) ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Golden Myanmar Airlines Public Company Limited (ရွှေမြန်မာ လေကြောင်းလိုင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ

**ရွှေမြန်မာလေကြောင်းလိုင်း အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်**

**(Golden Myanmar Airlines Public Company Limited)**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

တနင်္သာရီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရှမ်းပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ကချင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ရခိုင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ မန္တလေးမြို့
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ထားဝယ်မြို့
ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့
ကချင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မြစ်ကြီးနားမြို့
ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ စစ်တွေမြို့
ညွှန်ကြားရေးမှူးချုပ်၊ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
တိုင်းဒေသကြီးဦးစီးမှူးရုံး၊ မန္တလေးတိုင်းဒေသကြီး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
တိုင်းဒေသကြီးဦးစီးမှူးရုံး၊ တနင်္သာရီတိုင်းဒေသကြီး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ ရှမ်းပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ ကချင်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ ရခိုင်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန